အကြောင်းအရာ။ Good Brothers' Company Limited (ဂွတ်(ဒ်)ဘရားသား(စ်) ကုမ္ပဏီလီမိတက်) မှ ရခိုင် နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် နွားသားစပ် မွေးမြူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုမိန့် ထုတ်ပေးပါရန် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Good Brothers' Company Limited<br>- (ဂွတ်(ဒ်)ဘရားသား(စ်) ကုမ္ပဏီလီမိတက်) |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးလှဦး (ခ) ဦးလီမင် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - နွားသားစပ် မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်၊ ရေပြည့် ကျေးရွာအုပ်စု၊ စစ်စီးပင်ကွင်း၊ အကွက်အမှတ် (၁၅၃၀- ဃ)၊ ဦးပိုင်အမှတ် (၁)၊ မြေကွက်အမှတ် (၁-၄) ရှိ မြေ ၆.၆၂ ဧက၊ ဦးပိုင်အမှတ် (၄)၊ မြေကွက်အမှတ် (၆-၇) ရှိ မြေ ၂.၇၈ ဧက၊ ဦးပိုင်အမှတ် (၅)၊ မြေကွက်အမှတ် (၁၁-၁၂) ရှိ မြေ ၆.၅၃ ဧက နှင့် ဦးပိုင်အမှတ် (၇)၊ မြေကွက်အမှတ် (၂၅) ရှိ ၁၀.၂၃ ဧက စုစုပေါင်း မြေ ၂၆.၁၆ ဧက |
| ၃။ | မြေပိုင်ရှင် | - Good Brothers' Company Limited မှ မြေပိုင်ရှင် ဦးထွန်းလှိုင်နှင့် ဦးလင်းကြည်တို့ထံမှ အပြီးအပိုင် ဝယ်ယူထားခြင်းဖြစ်ပါသည်။ |
| ၄။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - ကျပ် ၉၆၂.၀၀ သန်း |
| | **ထည့်ဝင်သည့်အမျိုးအစား** | |
| | | **စုစုပေါင်း ကျပ်/သန်း** |
| | ငွေသား | ၆၆၈.၁၂ |
| | မြေတန်ဖိုး | ၇၈.၄၈ |
| | အဆောက်အဦ/ပရိဘောဂ | ၂၀၅.၃၀ |
| | လုပ်ငန်းသုံး/စက်ပစ္စည်း | ၁၀.၀၀ |
| | **စုစုပေါင်း** | **၉၆၂.၀၀** |

| | | |
|---|---|---|
| ၆။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀ % |
| ၇။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | ပြည်တွင်း(၁၀၀%)<br>အရေအတွက် (ကောင်)　　ရောင်းဈေးနှုန်း (ကျပ်/ ကောင်) |
| | Type A(3 year) | ၁၇၈　　၁,၂၀၀,၀၀၀ |
| | Type B(3 year) | ၁၇၈　　၁,၀၀၀,၀၀၀ |
| | Type C (6 year) | ၉၈　　၆၅၀,၀၀၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း<br>ဦးရေ　　၃၂ ဦး<br>အမြင့်ဆုံးလစာ　　၈၅၀,၀၀၀ ကျပ်<br>အနိမ့်ဆုံးလစာ　　၁၅၀,၀၀၀ ကျပ် |
| ၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် G.B.S Co., Ltdအမည်ဖြင့် ရှိးမ ဘဏ်တွင် ၁၈-၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၅၀၀,၂၂၉,၅၇၀ ရှိကြောင်း တင်ပြ ထားပါသည်။<br>- မြေအထောက်အထားအဖြစ် ကုမ္ပဏီမှ မြေပိုင်ရှင် ၂ ဦး ထံ မှ အပြီးအပိုင် ဝယ်ယူပြီးကြောင်း အထောက် အထားအဖြစ် နှစ်ဦး သဘောတူ ယာမြေ အရောင်းအဝယ် ကတိစာချုပ် ၃ စောင်၊ မြေစာရင်း ပုံစံ ၁၀၅၊ လယ်ယာမြေပုံစံ ၇၊ လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုခွင့် လျှောက်လွှာတို့ တင်ပြထားပါသည်။<br>- Good Brothers' Company Limited ၏ လုပ်ငန်း ဆောင်ရွက်မည့်ပုံစံ နှင့် လုပ်ငန်းအကျဉ်းချုပ်အား တင်ပြ ထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ဖြင့် ထုတ်ပြန် ထားသည့် ကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ စာရင်းအနက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက် ရမည့် လုပ်ငန်းများစာရင်းတွင် ပါဝင်သည့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ကသာ စိစစ် ခွင့်ပြုနိုင်သည့် လုပ်ငန်း ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းသည် **ဦးစားပေးမြှင့်တင်မည့် ရင်းနှီး မြှုပ်နှံမှု ကဏ္ဍ**တွင် ပါဝင်ပြီး ကန့်သတ်သည့် ရင်းနှီး မြှုပ်နှံမှု လုပ်ငန်း အမျိုးအစားပါ ISIC Code. 0141 တွင် အကျုံးဝင် ပါသည်။<br>- အဆိုပြု လုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု **ဦးစားပေးမြှင့် တင်မည့် ကဏ္ဍ**တွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန် အမျိုးအစား သတ်မှတ်ရာ ဇုန်(၁)-ဖွံ့ဖြိုးမှုနည်းပါးသော ဒေသတွင်ပါဝင်ကြောင်း စိစစ် တွေ့ရှိရပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ အ-၀၃၀ /၂၀၁၈( ၁၃၈ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် မတ်လ ၉ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **Good Brothers' Company Limited (ဂွတ်(ဒ်)ဘရားသား(စ်) ကုမ္ပဏီလီမိတက်) မှ ရာခိုင် နှန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုမိန့် ထုတ်ပေးပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Good Brothers' Company Limited (ဂွတ်(ဒ်) ဘရားသား (စ်) ကုမ္ပဏီလီမိတက်) တည်ထောင်ကာ မကွေးတိုင်း ဒေသကြီး၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်၊ ရေပြည့်ကျေးရွာအုပ်စု၊ စစ်စီးပင်ကွင်း၊ အကွက်အမှတ် (၁၅၃၀-ဃ)၊ ဦးပိုင်အမှတ်(၁)၊ မြေကွက်အမှတ် (၁-၄)ရှိ မြေ ၆.၆၂ဧက၊ ဦးပိုင်အမှတ် (၄)၊ မြေကွက်အမှတ် (၆-၇)ရှိ မြေ ၂.၇၈ဧက၊ ဦးပိုင်အမှတ်(၅)၊ မြေကွက်အမှတ်(၁၁-၁၂)ရှိ မြေ ၆.၅၃ဧက နှင့် ဦးပိုင်အမှတ် (၇)၊ မြေကွက်အမှတ် (၂၅)ရှိ ၁၀.၂၃ဧက စုစုပေါင်းမြေ၂၆.၁၆ဧက ကို ငှားရမ်းကာ နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် ကုမ္ပဏီမှ မြေပိုင်ရှင် ၂ ဦး ထံ မှ အပြီးအပိုင်ဝယ်ယူပြီးကြောင်း အထောက် အထားအဖြစ် နှစ်ဦး သဘောတူ ယာမြေအရောင်းအဝယ် ကတိစာချုပ်၊ မြေစာရင်းပုံစံ ၁၀၅၊ လယ်ယာမြေပုံစံ ၇ ၊ လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုခွင့် လျှောက်လွှာတို့ကိုတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၉၆၂.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | **စုစုပေါင်း (ကျပ်/သန်း)** |
|---|---|
| ငွေသား | ၆၆၈.၁၂ |
| မြေတန်ဖိုး | ၇၈.၄၈ |
| အဆောက်အဦး/ပရိဘောဂ | ၂၀၅.၃၀ |
| လုပ်ငန်းသုံး/စက်ပစ္စည်း | ၁၀.၀၀ |
| **စုစုပေါင်း** | **၉၆၂.၀၀** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၃၂ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၈၅၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်တွင်းသို့ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ပြည်တွင်း(၁၀၀%) | |
|---|---|---|
| **အမျိုးအစား** | **အရေအတွက် (ကောင်)** | **ရောင်းဈေးနှုန်း (ကျပ်/ကောင်)** |
| Type A(3 year) | ၁၇၈ | ၁,၂၀၀,၀၀၀ |
| Type B(3 year) | ၁၇၈ | ၁,၀၀၀,၀၀၀ |
| Type C(6 year) | ၉၈ | ၆၅၀,၀၀၀ |

၇။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြား ခဲ့ပါသည်-

(က) မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ တိုင်းဒေသကြီး အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီး ဌာန မှ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကိုရေးဆွဲတင်ပြ ရမည်ဖြစ်ကြောင်းသဘောထားပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ဂ**

၈။ ငွေကြေးအထောက်အထားအဖြစ် G.B.S Co., Ltd အမည်ဖြင့် ရိုးမဘဏ်တွင် ၁၈-၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၅၀၀,၂၂၉,၅၇၀ ရှိကြောင်း တင်ပြ ထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) အတည်ပြု လျှောက်ထားလွှာဖြင့် တင်ပြရသည့် အကြောင်း အရင်းမှာ ၁၅/၂၀၁၇ တွင် ထုတ်ပြန်ထားသည့် ကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများအနက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် ပါဝင်သည့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ (ရုံးချုပ်) အတည်ပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း ဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး **ဖွံ့ဖြိုးမှုနည်းပါးသောဒေသ** ဇုန် (၁)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုတင်ပြလာသည့် လုပ်ငန်းအမျိုးအစားနှင့် အလားတူလုပ်ငန်း(၁)ခုအား ကော်မရှင်မှ ခွင့်ပြုခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Good Brothers' Company Limited (ဂွတ်(ဒ်)ဘရားသား(စ်) ကုမ္ပဏီ လီမိတက်) မှ နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြု ပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

Good Brothers' Company Limited (ဂွတ်(ဒ်) ဘရားသား(စ်) ကုမ္ပဏီ လီမိတက်) ၏
ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Good Brothers' Company Limited (ဂွတ်(ဒ်) ဘရားသား(စ်) ကုမ္ပဏီ လီမိတက်) | (1)U Maung Maung Htwe@ U Lee Phu<br>Managing Director<br>Myanmar<br>12/ Ka Kha Na(N)020286 | No.(543), East Yadanarbumi, Hahar Aung Myay Township, Mandalay. |
| | | (2)U Maung Aye @ U Lee Kyan<br>Director<br>Myanmar<br>13/ Ka Kha Na(N)020283 | No.(Dha-10/5), Mahar Myaing Ward, Mahar Aung Myay Township, Mandalay. |
| | | (3)U Maung Nge<br>Director<br>Myanmar<br>13/ Ka Kha Na(N)020285 | No(543), East Yadanarbumi, Mahar Aung Myay Township, Mandalay. |
| | | (4)U Hla Oo<br>Director<br>Myanmar<br>13/ Ka Kha Na(N)020288 | No.(49), Phonegyi Street, (5) Ward, Lanmadaw Township, Yangon. |
| | | (5)U Zaw Zaw Lay<br>Director<br>Myanmar<br>13/ Ka Kha Na(N)020290 | No.(A-9G), 34th Street, Kinsana Mahi Ward, Chan Aye Thar Zan Township, Mandalay |
| | | (6)U Hnin Si<br>Shareholder<br>Myanmar<br>13/ Ka Kha Na(N)020287 | No.B/3-75, Bteween 65th *66th Street, Between Manawhari Street & Sein Pan Street, Chan Mya Thar Si Township, Mandalay. |
| | | (7)U Khin Hnin Phyu<br>Shareholder<br>Myanmar<br>13/ Ka Kha Na(N)020289 | No.122(A)G-1,80th street, Between 30th x 31st Street, East of Aung Nan Quarter, , Chan Aye Thar Zan Township, Mandalay |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၁-၂၃၀၀၁၉၄၊ ၀၉-၅၀၇၀၈၈၄ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဒေါ်မြတ်ဘုန်းထက် |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | နွားသားစပ်မွေးမြူခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | ၂၁၂/၁၉၉၁-၁၉၉၂ |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | |

နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့**
**မကွေးမြို့**

စာအမှတ်၊ ၄ /၇ - ၆ (စဘစ/ ၁၅၁ )/ ဦး၆
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်

သို့

ဥက္ကဋ္ဌ
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
မကွေးမြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ ယင်း၏၅.၂.၂၀၁၈ရက်စွဲပါစာအမှတ်၊ မက-ရက/ ရင်းနှီး/၂၀၁၈(၁၀၃)

Good Brother's Co.,Ltd(ဂွတ်ဘရားသား ကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်၊ ရေပြည့် ကျေးရွာအုပ်စု၊ စစ်စီးပင်ကွင်း၊ အကွက်အမှတ်(၁၅၃၀-ဃ)၊ ဦးပိုင်အမှတ်(၁)၊ မြေကွက်အမှတ်(၁-၄)ရှိ မြေဧရိယာ(၆.၆၂)ဧက၊ ဦးပိုင်အမှတ်(၄)၊ မြေကွက်အမှတ်(၆-၇)ရှိ မြေဧရိယာ(၂.၇၈)ဧက၊ ဦးပိုင် အမှတ်(၅)၊ မြေကွက်အမှတ်(၁၁-၁၂)ရှိ မြေဧရိယာ(၆.၅၃)ဧကနှင့် ဦးပိုင်အမှတ်(၇)၊ မြေကွက်အမှတ် (၂၅)ရှိ မြေဧရိယာ(၁၀.၂၃)ဧက စုစုပေါင်းမြေဧရိယာ (၂၆.၁၆)ဧကပေါ်တွင် နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာမှုအပေါ် တိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာနနှင့် တိုင်းဒေသကြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ပြန်လည်တင်ပြလာ သော သဘောထားမှတ်ချက်နှင့် အကြံပြုတင်ပြချက်များကို လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင် ပါရန် ပူးတွဲပေးပို့ပါသည်။

**ပူးတွဲပါ။** စာမိတ္တူ ( ၆ ) ရွက်

ဝန်ကြီးချုပ်( ကိုယ်စား )
( ဇော်မင်း၊ စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စည်ပင်သာယာရေးဝန်ကြီး )

မိတ္တူကို

အတွင်းရေးမှူး၊ တိုင်းဒေသကြီးအစိုးရအဖွဲ့
လှည့်လည်စာတွဲ
ရုံးလက်ခံ

တိုင်း ဒေ သ ကြီး အုပ် ချုပ် ရေး မှူး ရုံး
( အ ထွေ ထွေ အုပ် ချုပ် ရေး ဦး စီး ဌာ န )
မကွေးတိုင်းဒေသကြီး - မကွေးမြို့
စာအမှတ်၊ ၃ / ၂၂ - ၄၀ (၁၆၉ ) / ဦး ၄
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

သို့

ဝန်ကြီးချုပ်
မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မကွေးမြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ်သဘောထားပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ မကွေးမြို့၏(၉-၂-၂၀၁၈)ရက်စွဲပါစာအမှတ်၊ ၄ / ၇ - ၆ (စဘစ/ ၁၁၂) / ဦး ၆

၁။ Good Brother' s Co.,Ltd (ဂွတ်ဘရားသားကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်၊ ရေပြည့်ကျေးရွာအုပ်စု၊ စစ်စီးပင်ကွင်း၊ အကွက်အမှတ်(၁၅၃၀-ဃ)၊ ဦးပိုင်အမှတ်(၁)၊ မြေကွက်အမှတ်(၁-၄)ရှိ မြေဧရိယာ (၆.၆၂ ဧက)၊ ဦးပိုင်အမှတ်(၄)၊ မြေကွက်အမှတ်(၆-၇)ရှိ မြေဧရိယာ(၂.၇၈)ဧက၊ ဦးပိုင်အမှတ်(၅)၊ မြေကွက်အမှတ်(၁၁-၁၂)ရှိ မြေဧရိယာ(၆.၅၃)ဧကနှင့် ဦးပိုင်အမှတ်(၇)၊ မြေကွက်အမှတ် (၂၅)ရှိ မြေဧရိယာ (၁၀.၂၃) ဧက၊ စုစုပေါင်းမြေဧရိယာ (၂၆.၁၆) ဧကပေါ်တွင် နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်လိုကြောင်း မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီမှ တင်ပြလာမှုအပေါ် စိစစ်ပြီး ပြန်လည်တင်ပြရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားရှိခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မကွေးခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနသို့ စိစစ်တင်ပြစေခဲ့ရာ ၁၄-၂-၂၀၁၈ရက်နေ့တွင် အဆိုပါ Good Brother' s Co.,Ltd မှ နွားသားစပ် မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်လိုကြောင်းတင်ပြလာသည့် မြေနေရာများသို့ မကွေးခရိုင်အုပ်ချုပ်ရေးမှူးနှင့် မြို့နယ်မှတာဝန်ရှိသူများဖြင့် ကွင်းဆင်းစစ်ဆေးခဲ့ရာ ယာမြေများဖြစ်ကြောင်း၊ မြို့သစ်မြို့နယ်၊ ရေပြည့်ကျေးရွာအုပ်စု၊ စစ်စီးပင်ကွင်း၊ အကွက်အမှတ်(၁၅၃၀-ဃ)၊ ဦးပိုင်အမှတ်(၁)၊ မြေကွက်အမှတ်(၁-၄)ရှိ ယာမြေဧရိယာ(၆.၆၂)ဧကအား ဦးထွန်းလှိုင်အမည်ဖြင့် ပုံစံ(၇) ထုတ်ပေးထားကြောင်း၊ ၎င်းကွင်းအတွင်းမှ ဦးပိုင်အမှတ်(၄) ယာမြေဧရိယာ(၂.၇၈)ဧက၊ ဦးပိုင်အမှတ်(၅) ယာမြေဧရိယာ(၆.၅၃)ဧကနှင့် ဦးပိုင်အမှတ်(၇)ယာမြေဧရိယာ(၁၀.၂၃)ဧကတို့သည် ဦးလင်းကြည်အမည်ဖြင့် ပုံစံ(၇) ထုတ်ပေးထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Good Brothers Co.Ltd မှ နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လိုကြောင်း တင်ပြလာသည့် စုစုပေါင်းမြေဧရိယာ (၂၆.၁၆)ဧကအား ၂၀၁၂ ခုနှစ်၊ လယ်ယာမြေဥပဒေပုဒ်မ ၃၀(ခ)အရ အခြားနည်းအသုံးပြုခွင့်ရရှိရေး ဥပဒေလုပ်ထုံး လုပ်နည်းများ နှင့်အညီ လျှောက်ထားဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သိရှိညွှန်ကြားမှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

| | | | |
|---|---|---|---|
| ပူးတွဲ။ | (၁) | ခရိုင်အုပ်ချုပ်ရေးမှူး၏ သဘောထားမှတ်ချက် | (၁) စောင် |
| | (၂) | မြို့နယ်အုပ်ချုပ်ရေးမှူး၏ သဘောထားမှတ်ချက် | (၁) စောင် |
| | (၃) | မြေရာဇဝင် စိစစ်ချက် | (၁) စုံ |
| | (၄) | လယ်ယာမြေအခြားနည်းအသုံးပြုခွင့် လျှောက်ထားမည် ဖြစ်ကြောင်း ဝန်ခံချက် | (၁) စောင် |
| | (၅) | ယာမြေပိုင်ရှင် ဦးလင်းကြည်၏ သဘောထားမှတ်ချက် | (၁) စောင် |
| | (၆) | ယာနီးချင်းတောင်သူများ၏ သဘောထားမှတ်ချက် | (၁) စောင် |
| | (၇) | ရေပြည့်ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး၏ သဘောထားမှတ်ချက် | (၁) စောင် |
| | (၈) | လျှောက်ထားသည့် တည်နေရာပြမြေပုံကြမ်း | (၄) စောင် |
| | (၉) | အဆောက်အဦးဆောက်လုပ်မည့် မြေပုံကြမ်း | (၁) ပုံ |
| | (၁၀) | ကွင်းဆင်းစစ်ဆေးမှုမှတ်တမ်းဓာတ်ပုံ | (၂) စုံ |

ဝေဇင်ထွန်း
အုပ်ချုပ်ရေးမှူး

မိတ္တူကို
လှည့်လည်စာတွဲ
ရုံးလက်ခံ

နောက်ဆက်တွဲ- ခ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ် ၊ ၃/၂၀၀၀/မွေးရေကျေး( ၈၅ /၂၀၁၈)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၅ - ၂ - ၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မက-ရက/ရင်းနှီး/၂၀၁၈ (၀၀၂)

(၂) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ ၁၅-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ တမဖ/ MIC (၇၅)/ မကညကခ-၂၀၁၈

၁။ Good Brother's Company Limited (ဂွတ်ဘရားသား ကုမ္ပဏီလီမိတက်) မှ မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်၊ ရေပြည့်ကျေးရွာအုပ်စု၊ စစ်စီးပင်ကွင်း၊ အကွက်အမှတ် (၁၅၃၀-ဃ)၊ ဦးပိုင်အမှတ် (၁)၊ မြေကွက်အမှတ်အမှတ် (၁-၄) ရှိ မြေ (၆.၆၂) ဧက၊ ဦးပိုင်အမှတ် (၄)၊ မြေကွက် (၆-၇) ရှိ မြေ (၂.၇၈) ဧက၊ ဦးပိုင်အမှတ် (၅)၊ မြေကွက်အမှတ် (၁၀-၁၂)ရှိ မြေ (၆.၅၃) ဧကနှင့် ဦးပိုင်အမှတ်(၇)၊ မြေကွက်အမှတ် (၂၅) ရှိ မြေ (၁၀.၂၃) ဧက၊ စုစုပေါင်း မြေ (၂၆.၁၆) ဧက ပေါ်တွင် နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြခြင်းအပေါ် ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် အကြောင်းကြားလာပါသည်။

၂။ Good Brother's Company Limited သည် လက်ရှိတွင် နွားမွေးမြူရေးလုပ်ငန်းကို အမှန်တစ်ကယ်လုပ်ကိုင်ဆောင်ရွက်လျက်ရှိပြီး မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ မကွေးခရိုင်/မြို့နယ် ဝန်ထမ်းများမှ တိရစ္ဆာန်ကျန်းမာရေးစောင့်ရှောက်မှုလုပ်ငန်းများ ဆောင်ရွက်ပေးခြင်း၊ မွေးမြူရေးခြံမှတ်ပုံတင်ပြုလုပ်ပြီး မွေးမြူရေးလုပ်ငန်းများကို ဌာန၏ကြီးကြပ်လမ်းညွှန်မှုအတိုင်း စနစ်တကျလုပ်ကိုင်ဆောင်ရွက်လျက်ရှိခြင်းနှင့် ကုမ္ပဏီ၏ နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် မွေးမြူရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ပြီး ကျေးလက်ဒေသ လုပ်သားပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာနိုင်ပါကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြ လာပါသည်။

၃။ သို့ဖြစ်ပါ၍ စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် Good Brother's Company Limited (ဂွတ်ဘရားသား ကုမ္ပဏီလီမိတက်) မှ မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်ရှိ စုစုပေါင်း မြေ (၂၆.၁၆) ဧက ပေါ်တွင် နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းအပေါ် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
လှထွန်း၊ဒုတိယအမြဲတမ်းအတွင်းဝန်

**မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
(၂) ရုံးလက်ခံ/ မျှော

ST

ပြည် ထောင် စု သ မ္မ တ မြန် မာ နိုင် ငံ တော်
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
မွေး မြူ ရေး နှင့် ကု သ ရေး ဦး စီး ဌာ န
တိုင်း ဒေ သ ကြီး ဦး စီး မှူး ရုံး၊ မ ကွေး မြို့
စာအမှတ်၊မက-မကတ/မွေးမြူရေးခြံ /၂၀၁၈(၁၃၅)
ရက် စွဲ၊ ၂၀၁၈ ခုနှစ် ၊ ဖေဖော်ဝါရီလ ( ၁၃ ) ရက်

သို့

ဝန်ကြီးချုပ်
မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မကွေးမြို့

၆၇၄/၆၉၃
၁၄.၂.၂၀၁၈

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားပေးပို့တင်ပြခြင်း**

ရည် ညွှန်း ချက်။ မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၅-၂-၂၀၁၈) ရက်စွဲပါစာအမှတ်၊ မက - ရက / ရင်းနှီး/ ၂၀၁၈ (၀၀၂)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ Good Brother Co.,Ltd (ဂွတ်ဘရားသားကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်၊ ရေပြည့်ကျေးရွာအုပ်စု၊ စစ်စီးပင်ကွင်း၊ ကွင်းအမှတ်(၁၅၃၀-ဃ)၊ ဦးပိုင်အမှတ်(၁)၊ မြေကွက်အမှတ်(၁-၄)ရှိ မြေ(၆.၆၂)ဧက၊ ဦးပိုင်အမှတ်(၄)၊ မြေကွက်အမှတ် (၆-၇) ရှိမြေ (၂.၇၈)ဧက၊ ဦးပိုင်အမှတ်(၅)၊ မြေကွက်အမှတ်(၁၁-၁၂)ရှိမြေ (၆.၅၃)ဧကနှင့် ဦးပိုင်အမှတ်(၇)၊ မြေကွက်အမှတ်(၂၅)ရှိ မြေ (၁၀.၂၃) ဧက စုစုပေါင်း မြေ(၂၆.၁၆)ဧကပေါ်တွင် နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်လိုကြောင်း အဆိုပြုလျှောက်ထားလာခြင်းအပေါ် မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီမှ အဆိုပါလုပ်ငန်းဆောင်ရွက်မှုနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Good Brother Co.,Ltd (ဂွတ်ဘရားသား ကုမ္ပဏီလီမိတက်)သည် လက်ရှိတွင်လည်း နွားမွေးမြူရေးလုပ်ငန်းကို အမှန်တကယ်လုပ်ကိုင်ဆောင်ရွက်လျှက်ရှိပြီး၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ မကွေးခရိုင်/ မြို့နယ်ဝန်ထမ်းများမှ တိရစ္ဆာန်ကျန်းမာရေးစောင့် ရှောက်မှုလုပ်ငန်းများ ဆောင်ရွက်ပေးခြင်း၊ မွေးမြူရေးခြံမှတ်ပုံတင်ပြုလုပ်ပြီး မွေးမြူရေးလုပ်ငန်းကို ဌာန၏ ကြီးကြပ်ညွှန်ကြားမှုအတိုင်း စနစ်တကျ လုပ်ကိုင်ဆောင်ရွက်လျှက်ရှိခြင်းနှင့် ကုမ္ပဏီ၏ ယခုအဆိုပြုတင်ပြသည့်လုပ်ငန်းအား ခွင့်ပြုပေးနိုင်မည်ဆိုပါက မွေးမြူရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ပြီး၊ ကျေးလက်ဒေသလုပ်သားပြည်သူများ အလုပ်အကိုင်အခွင့်အလမ်း ရရှိလာနိုင်စေခြင်းကြောင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားပေးပို့တင်ပြအစီရင်ခံအပ်ပါသည်။

13/2/18

တိုင်းဒေသကြီးဦးစီးဌာနမှူး
ဒေါက်တာမောင်မောင်စိုးဦး၊ ညွှန်ကြားရေးမှူး

မိတ္တူကို-

- ဝန်ကြီး၊စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊မကွေးမြို့။
- ✓ ဥက္ကဋ္ဌ၊မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၊မြို့နယ်စုပေါင်းရုံး၊ပြည်တော်သာရပ်ကွက်
- မျှော/လက်ခံစာတွဲ။

Question

ပတ် ဝန်း ကျင် ထိန်း သိမ်း ရေး ဦး စီး ဌာ န
ညွှန် ကြား ရေး မှူး ရုံး
မ ကွေး တိုင်း ဒေ သ ကြီး - မ ကွေး မြို့
စာ အ မှတ် ၊ ၂ / ၅ ( ၂၆၂ /၂၀၁၈)
ရက် စွဲ ၊ ၂၀၁၈ ခု နှစ်၊ ဖေဖော်ဝါရီလ ၁၅ ရက်

သို့

ဝန်ကြီးချုပ်
တိုင်းဒေသကြီးအစိုးရအဖွဲ့
မကွေးတိုင်းဒေသကြီး၊ မကွေးမြို့

အကြောင်းအရာ။ Good Brother's Company Limited (ဂွတ်ဘရားသား ကုမ္ပဏီလီမိတက်) မှ နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၉.၂.၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၄/၇-၆ (စဘစ/၁၁၂)/ဦး ၆

၁။ မြန်မာနိုင်ငံသား ဂွတ်ဘရားသား ကုမ္ပဏီလီမိတက်မှ မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်၊ ရေပြည့်ကျေးရွာအုပ်စု၊ စစ်စီးပင်ကွင်း၊ အကွက်အမှတ် (၁၅၃၀-ဃ)၊ ဦးပိုင်အမှတ် (၁)၊ မြေကွက်အမှတ် (၁-၄) ရှိ မြေဧရိယာ (၆.၆၂) ဧက၊ ဦးပိုင်အမှတ် (၄)၊ မြေကွက်အမှတ် (၆-၇) ရှိ မြေဧရိယာ (၂.၇၈) ဧက၊ ဦးပိုင်အမှတ် (၅)၊ မြေကွက်အမှတ် (၁၁-၁၂) ရှိ မြေဧရိယာ (၆.၅၃) ဧကနှင့် ဦးပိုင်အမှတ (၇)၊ မြေကွက်အမှတ် (၂၅) ရှိ မြေဧရိယာ (၁၀.၂၃) ဧက စုစုပေါင်းမြေဧရိယာ (၂၆.၁၆) ဧက ပေါ်တွင် နွားသားစပ်မွေးမြူခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်းပြီး လက်ခံနိုင်ခြင်း ရှိ/မရှိ စိစစ်၍ သဘောထားမှတ်ချက်နှင့် အကြံပြုတင်ပြချက် ပြန်လည်တင်ပြရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါ အချက်များကို လေ့လာတွေ့ရှိရပါသည်-

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီမှ ခွင့်ပြုချက်ပေးမည့် ကာလအတိုင်းဖြစ်ပါကြောင်း။

(ခ) အဆိုပြုလုပ်ငန်းအား မကွေးတိုင်းဒေသကြီး၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်၊ ရေပြည့်ကျေးရွာအုပ်စု၊ စစ်စီးပင်ကွင်း၊ အကွက်အမှတ် (၁၅၃၀-ဃ)၊ ဦးပိုင်အမှတ် (၁)၊ မြေကွက်အမှတ် (၁-၄) ရှိ မြေဧရိယာ (၆.၆၂) ဧက၊ ဦးပိုင်အမှတ် (၄)၊ မြေကွက်အမှတ် (၆-၇) ရှိ မြေဧရိယာ (၂.၇၈) ဧက၊ ဦးပိုင်အမှတ် (၅)၊ မြေကွက်အမှတ် (၁၁-၁၂) ရှိ မြေဧရိယာ (၆.၅၃) ဧကနှင့် ဦးပိုင်အမှတ် (၇)၊ မြေကွက်အမှတ် (၂၅) ရှိ မြေဧရိယာ (၁၀.၂၃) ဧက စုစုပေါင်းမြေဧရိယာ (၂၆.၁၆) ဧက တွင် ဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း။

(ဂ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊အရေးပေါ်ဘေးအန္တရာယ်စီမံခန့်ခွဲရေးအစီအစဉ်၊ အရေးပေါ်ကယ်ဆယ်ရေးအစီအစဉ်၊ လုံခြုံရေးအစီအစဉ်နှင့် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။

(ဃ) လုပ်ငန်းမှနှစ်စဉ်ရရှိလာမည့် အမြတ်ငွေမှ သတ်မှတ်ရာခိုင်နှုန်းဖြင့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ပါကြောင်း။

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပြီး လိုအပ်သော ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြု မေးမြန်းစုံစမ်းလာသောလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) ဂွတ်ဘရားသား ကုမ္ပဏီလီမိတက်မှ နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းသည် တိရစ္ဆာန်များမှထွက်ရှိသည့် အနံ့အသက်များ၊ ခြံအတွင်းမှ မစင်နံ့များနှင့် မကြာခဏပြေးလွှားနိုင်သည့်အတွက် ဖုန်မှုန့်များထွက်ရှိနိုင်ပြီး ပတ်ဝန်းကျင်ရှိမြေထု၊ ရေထု၊ လေထု ကို အနည်းငယ်ညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ပါကြောင်း။

(ခ) မွေးမြူရေးလုပ်ငန်းဖြစ်သည့်အတွက် ပတ်ဝန်းကျင်သို့ ထွက်ရှိလာမည့် အမှုန်အမွှား နှင့် တိရစ္ဆာန်များ၏ဆူညံသံများကြောင့် လေထုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ပြီး ပတ်ဝန်းကျင်ရှိ ပြည်သူ များအား ကျန်းမာရေးထိခိုက်စေနိုင်ပါကြောင်း။

(ဂ) မွေးမြူရေးလုပ်ငန်းရှိ ခြံများမှ တိရစ္ဆာန်အစားအစာများ၊ မစင်များ၊ စွန့်ပစ်ရေများ၊ အမှုန်အမွှားများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါကြောင်း။

၄။ သို့ဖြစ်ပါ၍ ဂွတ်ဘရားသား ကုမ္ပဏီလီမိတက်မှ နွားသားစပ်မွေးမြူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရန် စုံစမ်းမေးမြန်းလာခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာဆောင်ရွက်ရမည့် လုပ်ငန်းများအတွက် သဘောထားမှတ်ချက်အား အောက်ပါအတိုင်းအကြံပြု တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြမည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် အသားတင်အမြတ်ငွေ၏ သတ်မှတ်ရာခိုင်နှုန်းအား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက် ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်

ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ သီးခြားစီ အစီရင်ခံ ရေးသား၍ ဤရုံးသို့ (၁) လအတွင်း ပြန်လည်တင်ပြအတည်ပြုချက်ရယူရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံး လုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ကိုဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်။

(ဃ) မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(ဝင်းကိုကို)
လက်ထောက်ညွှန်ကြားရေးမှူး
တာဝန်ခံအရာရှိ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မကွေးတိုင်းဒေသကြီး

မိတ္တူ။

တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၊ မြို့နယ်စုပေါင်းရုံး၊ ပြည်တော်သာ(၁)လမ်း၊မကွေးမြို့
ဝွတ်ဘရားသား ကုမ္ပဏီလီမိတက်၊ မကွေးခရိုင်၊ မြို့သစ်မြို့နယ်၊ ရေပြည့်ကျေးရွာအုပ်စု
ကာကွယ်ရေးဖိုင်
ရုံးလက်ခံ